၃

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Habras-MZZ Plantation Myanmar Company Limited မှ ယူကလစ်၊ အကေးရှား အပင်မျိုးစိတ် စိုက်ခင်းများ တည်ထောင်ခြင်းနှင့် pulpwood chips ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ရင်းနှီးမြှုပ်နှံသူ | - Habras-MZZ Plantation Myanmar Company Limited<br>- ဦးရဲမင်း |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Habras-MZZ International (Singapore) Pte.,Ltd. ၅၀% (စင်္ကာပူနိုင်ငံ)<br>- Mu Mu International Trading Pte.,Ltd. ၅% (စင်္ကာပူနိုင်ငံ)<br>- Min Nwe Trading Co.,Ltd. ၂၅% (မြန်မာ)<br>- Myo Zin Zar International Co.,Ltd. ၂၀% (မြန်မာ) |
| | လုပ်ငန်းအမျိုးအစား | - ယူကလစ်၊ အကေးရှား အပင်မျိုးစိတ် စိုက်ခင်းများ တည်ထောင်ခြင်းနှင့် pulpwood chips ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - တင်ဒါလုပ်ကွက်အမှတ်-၈၃၊ ၈၄၊ ၈၇၊ ဆင်မကြိုးဝိုင်း၊ ပုသိမ်ခရိုင်၊ ငပုတောမြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - သစ်တောဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန |
| | မြေအမျိုးအစား | - သစ်တောကြိုးဝိုင်းမြေ |
| | မြေအကျယ်အဝန်း | - စုစုပေါင်းမြေဧရိယာ ၁၂,၅၀၁ ဧက |
| | မြေအသုံးချမှုပရီမီယံကြေး | - တင်ဒါလုပ်ကွက်အမှတ်-၈၃၊ ၈၄၊ ၈၇ ရှိ မြေ ၁၂၅၀၁ ဧက အတွက်<br>- တစ်ဧက - ကျပ် ၃၀၀၀၀<br>- စုစုပေါင်း ၁၂၅၀၁ ဧက - ကျပ် ၃၇၅.၀၃၀ သန်း |

<table>
<tr><td></td><td>နှစ်စဉ်မြေငှားရမ်းခနှုန်း</td><td>- တစ်နှစ်စုစုပေါင်းမြေငှားရမ်းခကျပ် ၁၈.၇၅၂ သန်း<br>- (တစ်နှစ်တစ်ဧကလျှင် ၁၅၀၀ ကျပ်နှုန်း)</td></tr>
<tr><td>၄။</td><td>မြေငှားရမ်းအသုံးပြုခွင့် သက်တမ်း<br>ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း<br>တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ</td><td>- ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်<br>- ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်<br>- ၇ နှစ်</td></tr>
<tr><td>၅။</td><td>စုစုပေါင်းမတည်ငွေရင်း<br>ထည့်ဝင်သည့်အမျိုးအစား</td><td>- အမေရိကန်ဒေါ်လာ ၁၂.၆ သန်း
<table>
<tr><td></td><td></td><td>ပြည်တွင်း (US$သန်း)</td><td>ပြည်ပ (US$သန်း)</td><td>စုစုပေါင်း (US$သန်း)</td></tr>
<tr><td>(က)</td><td>ငွေသား</td><td>၅.၆၇၀</td><td>၆.၉၃၀</td><td>၁၂.၆၀၀</td></tr>
<tr><td></td><td>စုစုပေါင်း</td><td>၅.၆၇၀</td><td>၆.၉၃၀</td><td>၁၂.၆၀၀</td></tr>
</table></td></tr>
<tr><td>၆။</td><td>ဝန်ထမ်းအင်အား<br>ပြည်တွင်း<br>ပြည်ပ</td><td>- ၃၁၀ ဦး<br>- ၃၀၁ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁၀,၀၀၀,၀၀၀ ဖြစ်ပါသည်။)<br>၉ ဦး(ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၂,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၄,၀၀၀ ဖြစ်ပါသည်။)</td></tr>
<tr><td>၇။</td><td>ရောင်းချမည့်စနစ်</td><td>- ပြည်ပ ၈၀ %၊ ပြည်တွင်း ၂၀ %</td></tr>
<tr><td>၈။</td><td>နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်)</td><td>
<table>
<tr><td rowspan="2">ပစ္စည်းအမျိုးအစား</td><td colspan="2">အရေအတွက် (MT)</td><td colspan="2">ရောင်းချမည့်ဈေးနှုန်း</td></tr>
<tr><td>ပြည်ပ</td><td>ပြည်တွင်း</td><td>ပြည်ပ (USD/ MT)</td><td>ပြည်တွင်း (kyat/ MT)</td></tr>
<tr><td>Pulpwood</td><td>၃၂၁၆၀</td><td>၈၀၄၀</td><td>၄၂</td><td>၆၃၀၀၀</td></tr>
</table></td></tr>
<tr><td>၉။</td><td>လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်)</td><td>- ၆၀ KW per day</td></tr>
<tr><td>၁၀။</td><td>အခြားတင်ပြချက်</td><td>- မြေပိုင်ရှင် သစ်တောဦးစီးဌာနနှင့် Habras-MZZ Plantation Myanmar Company Limited တို့ကြား ပုဂ္ဂလိက သစ်တော စိုက်ခင်း တည်ထောင်ရန် တင်ဒါလုပ်ကွက်အမှတ်-၈၃၊ ၈၄၊ ၈၇ ရှိ သစ်တောမြေ ၁၂၅၀၁ ဧကအား ငှားရမ်းသည့် နှစ်ရှည်မြေငှားရမ်းခြင်းနှစ်ဘက်သဘောတူ စာချုပ် (မူကြမ်း) တို့ကို တင်ပြထားပါသည်။ Habras-MZZ International (Singapore) Pte.,Ltd. ၊ Mu Mu International Trading Pte., Ltd. နှင့် Myo Zin Zar International Co.,Ltd.၊</td></tr>
</table>

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | Min Nwe Trading Co.,Ltd. တို့အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း) တို့ကိုလည်း တင်ပြထားပါသည်။<br>- ငွေကြေး အထောက်အထားအဖြစ် Mu Mu International Trading Pte.,Ltd. အမည်ဖြင့် UOB Bank တွင် ၃၀-၁၁-၂၀၁၉ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁၇,၂၅၅.၇၃ ရှိကြောင်း၊ ဦးအဗ္ဗူဒ္ဒဘာစစ်နှင့် ဒေါ်မြသန္တာဝင်း အမည်ဖြင့် ရောဝတီဘဏ်တွင် ၃၀-၁၂-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၂,၇၆၆,၄၆၉.၂၁ ၊ ဦးရဲမင်းနှင့် ဒေါ်နွယ်နွယ်ဦး အမည်ဖြင့် ရောဝတီဘဏ်တွင် ၂၇-၁၂-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၅,၈၃,၆၇၂.၄၂ ရှိကြောင်း တင်ပြထားပါသည်။<br>- Habras-MZZ Plantation Myanmar Company Limited ၏ Myanmar Projection Planနှင့် Plantation Plan အား တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူးလက်မှတ်မိတ္တူများ တင်ပြထားပါသည်။<br>- Habras-MZZ Plantation Myanmar Company Limited မှ မီးဘေးကာကွယ်ရေး အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်တို့အား တင်ပြထားပါသည်။<br>- သစ်တောဦးစီးဌာနမှ မျိုးဇင်ဇာအပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်အစား Habras-MZZ Plantation Myanmar Co.,Ltd. အမည်ဖြင့် ပြောင်းလဲချုပ်ဆိုသည့် စာချုပ်(မူကြမ်း)အား တင်ပြထားပါသည်။<br>-ပုဂ္ဂလိက သစ်တောစိုက်ခင်း တည်ထောင်ရန် တင်ဒါ အောင်မြင်သည့် မျိုးဇင်ဇာအပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်နှင့် Habras-MZZ Plantation Myanmar Company Limited တို့ကြား ဖက်စပ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန် မရှိကြောင်းနှင့် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ ထောက်ခံပေးပို့သည့် စာအား ပူးတွဲ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | -ပုဂ္ဂလိက သစ်တောစိုက်ခင်း တည်ထောင်ရန် တင်ဒါအောင်မြင်သည့် မျိုးဇင်ဇာအပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်နှင့် Habras-MZZ Plantation Myanmar Company Limited တို့ကြား ဖက်စပ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန် မရှိကြောင်းနှင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ ထောက်ခံပေးပို့သည့် စာအား ပူးတွဲတင်ပြထားပါသည်။<br>(Exchange Rate အနေဖြင့် 1US$= ၁၅၀၀ ကျပ်နှုန်းဖြင့် တင်ပြထားပါသည်။)<br>- နိုင်ငံတော်သမ္မတရုံး၏ ၃၀-၅-၂၀၁၄ ရက်စွဲပါစာအမှတ်- ၀၃(၃)/ ၇/ သမ္မတရုံးအရ ပြည်တွင်း/ ပြည်ပ ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်တောမြေများ ငှားရမ်းဆောင်ရွက်မည့် စိုက်ခင်း/ စီးပွားရေးလုပ်ငန်းများကို အိတ်ဖွင့်တင်ဒါစနစ်ဖြင့် ဆောင်ရွက်ရမည်ဖြစ်ပါသည်။ Habras-MZZ Plantation Myanmar Company Limitedတွင် ပါဝင်သည့် မျိုးဇင်ဇာကုမ္ပဏီလီမိတက် သည် သစ်တောဦးစီး ဌာန၏ ၂၉-၁-၂၀၁၅ ရက်စွဲပါ အမိန့်ကြော်ငြာစာဖြင့် တင်ဒါအောင်မြင်ထားပြီး သစ်တောဦးစီးဌာနနှင့် နှစ်ရှည်မြေငှားရမ်း စာချုပ်ချုပ်ဆိုထားပြီးဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၆ (က)နှင့် (ခ)တွင် အကျုံးဝင်ပါသဖြင့် ခွင့်ပြုမိန့် ရယူ ဆောင်ရွက်ရမည့် လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ်(၁၃/၂၀၁၇) အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု စာရင်းတွင် ပါဝင်ပါပြီး ISIC Code-၀၂၁၀ တွင် အကျုံးဝင်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ ၁-၀၆၅/ ၂၀၂၀( ၀၁၉ )

ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ် မတ်လ ၂၆ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Habras-MZZ Plantation Myanmar Company Limited မှ ယူကလစ်၊ အကေးရှား အပင်မျိုးစိတ် စိုက်ခင်းများ တည်ထောင်ခြင်းနှင့် pulpwood chips ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ

၁။ စင်္ကာပူနိုင်ငံ Habras-MZZ International (Singapore) Pte.,Ltd. မှ (၅၀%)၊ Mu Mu International Trading Pte.,Ltd. မှ (၅%)နှင့် မြန်မာနိုင်ငံမှ Min Nwe Trading Company Limited မှ (၂၅%)၊Myo Zin Zar International Company Limited မှ (၂၀%)၊ အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Habras-MZZ Plantation Myanmar Company Limited တည်ထောင်ပြီး ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ငပုတောမြို့နယ်၊ ဆင်မကြီးးပိုင်း၊ တင်ဒါလုပ်ကွက်အမှတ်-၈၃၊ ၈၄၊ ၈၇ အတွင်းရှိ စုစုပေါင်းမြေဧရိယာ ၁၂၅၀၁ ဧကကို ငှားရမ်း၍ ယူကလစ်၊ အကေးရှား အပင်မျိုးစိတ် စိုက်ခင်းများ တည်ထောင် ခြင်းနှင့် pulpwood chips ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက် ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် သစ်တောဦးစီးဌာနနှင့် မြေငှားသူ Habras-MZZ Plantation Myanmar Company Limited တို့ကြားချုပ်ဆိုမည့် မြေငှားစာချုပ်(မူကြမ်း)၊ Habras-MZZ International (Singapore) Pte.,Ltd. ၊ Mu Mu International Trading Pte.,Ltd. နှင့် Myo Zin Zar International Co.,Ltd.၊ Min Nwe Trading Co.,Ltd. တို့အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း)တို့အား တင်ပြထားပါသည်။

၃။ Habras-MZZ Plantation Myanmar Company Limited တွင် ပါဝင်သည့် မျိုးဇင်ဇာကုမ္ပဏီလီမိတက်သည် သစ်တောဦးစီးဌာနနှင့် နှစ်ရှည်မြေငှားရမ်းခြင်း နှစ်ဘက်သဘောတူစာချုပ်ကို ၂၀၁၆ ခုနှစ် မတ်လ ၂၅ ရက်နေ့တွင် ချုပ်ဆိုထားပြီးဖြစ်ပါသည်။

၄။ သစ်တောဦးစီးဌာနနှင့် Habras-MZZ Plantation Myanmar Company Limited တို့အကြားချုပ်ဆိုမည့် နှစ်ရှည်မြေငှားစာချုပ်တွင် ဖော်ပြထားချက်အရ နှစ်စဉ်မြေငှားရမ်းခမှာ တစ်ဧကကျပ် ၁၅၀၀ နှုန်းဖြင့် မြေဧရိယာ ၁၂၅၀၁ ဧက အတွက် တစ်နှစ်လျှင် ကျပ် ၁၈.၇၅၂ သန်းဖြစ်ပြီး မြေအသုံးချမှု ပရီမီယံကြေး တစ်ဧကလျှင် ကျပ် ၃၀၀၀၀ နှုန်းဖြင့် ကျပ် ၃၇၅.၀၃၀ သန်းကို အငှားချထားသူထံသို့ ၃ ကြိမ်ခွဲ၍ ပေးသွင်းရမည်ဖြစ်ပါသည်။

၅။ လုပ်ငန်းစီမံကိန်းကာလမှာ ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၇ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်း၏စုစုပေါင်းမတည်ငွေရင်းမှာအမေရိကန်ဒေါ်လာ ၁၂.၆ သန်းဖြစ်ပြီး မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ပြည်တွင်း (US$သန်း) | ပြည်ပ (US$သန်း) | စုစုပေါင်း (US$သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၅.၆၇၀ | ၆.၉၃၀ | ၁၂.၆၀၀ |
| | စုစုပေါင်း | ၅.၆၇၀ | ၆.၉၃၀ | ၁၂.၆၀၀ |

၇။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း (၃၀၁) ဦး၊ ပြည်ပဝန်ထမ်း (၉) ဦးစုစုပေါင်း (၃၁၀) ဦးခန့်ထားမည်ဖြစ်ပြီး ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁၀,၀၀၀,၀၀၀ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၂,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၄,၀၀၀ ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိမည့် Plywood Chips များအား ပြည်ပသို့ ၈၀%နှင့် ပြည်တွင်း ၂၀% ရောင်းချမည် ဖြစ်ပါသည်။ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| အမျိုးအစား | အရေအတွက်(MT) | | ရောင်းချမည့်ဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်ပ | ပြည်တွင်း | ပြည်ပ (US$/ MT) | ပြည်တွင်း (Kyat/ MT) |
| Pulpwood (first year) | ၃၂၁၆၀ | ၈၀၄၀ | ၄၂ | ၆၃၀၀၀ |

၉။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားထားပါသည်-

(က) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ အဆိုပြု လုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (က)

(ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံဌာနဆိုင်ရာပူးပေါင်း လုပ်ငန်း အဖွဲ့မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကိုပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကိုရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားထားပါသည်။ နောက်ဆက်တွဲ(ခ)

၁၀။ ငွေရေးကြေးရေးအထောက်အထားအဖြစ် Mu Mu International Trading Pte.,Ltd. အမည်ဖြင့် UOB Bank တွင် ၃၀-၁၁-၂၀၁၉ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁၇,၂၅၅.၇၃ ရှိကြောင်း၊ ဦးအုန်းဒူဘာစစ်နှင့် ဒေါ်မြသန္တာဝင်းအမည်ဖြင့် ရောဝတီဘဏ်တွင် ၃၀-၁၂-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၂,၇၆၆,၄၆၉.၂၀ ရှိကြောင်းနှင့် ဦးရဲမင်းနှင့် ဒေါ်နွယ်နွယ်ဦး အမည်ဖြင့် ရောဝတီဘဏ်တွင် ၂၇-၁၂-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၅,၅၂၃,၆၇၂.၄၂ ရှိကြောင်း ဘဏ်အထောက်အထား တင်ပြထားပါသည်။

၁၁။ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ်၊ သန့်ရှင်းသာယာရေးစီမံချက်နှင့် CSR Project တို့ကိုတင်ပြထားပါသည်။

၁၂။ Habras-MZZ Plantation Myanmar Company Limited ၏ ကုမ္ပဏီမှတ်ပုံတင်မိတ္တူ၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူးလက်မှတ်မိတ္တူ များအား ပူးတွဲ တင်ပြထားပါသည်။

၁၃။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၂၀ ပြည့်နှစ် ဇန်နဝါရီလ ၁၃ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၂/၂၀၂၀ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

စိစစ်တင်ပြချက်

၁၄။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code-၀၂၁၀ တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၁)တွင် ပါဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အားဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဃ) လုပ်ငန်းအတွက် လိုအပ်မည့် ကုန်ကြမ်း၊ စက်ပစ္စည်းများနှင့် ဆောက်လုပ်ရေးသုံးပစ္စည်းများအား ပြည်တွင်းနှင့် ပြည်ပမှ ဝယ်ယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(င) နိုင်ငံတော်သမ္မတရုံး၏ နိုင်ငံပိုင်မြေ၊ အဆောက်အအုံများ ငှားရမ်းခြင်း၊ လွှဲပြောင်းခြင်းနှင့် အကျိုးတူလုပ်ကိုင်ခြင်းများတွင် လိုက်နာရမည့် ညွှန်ကြားချက် ၃/၂၀၁၈ ထုတ်ပြန်ခြင်း မပြုမီ နိုင်ငံတော်သမ္မတရုံး၏ ၃၀-၅-၂၀၁၄ ရက်စွဲပါစာအမှတ်-၀၃(၃)/ ၇/ သမ္မတရုံးစာအရ ပြည်တွင်း/ ပြည်ပ ရင်းနှီးမြှုပ်နှံမှုဖြင့် သစ်တောမြေများ ငှားရမ်းဆောင်ရွက်မည့် စိုက်ခင်း/ စီးပွားရေး လုပ်ငန်းများကို အိတ်ဖွင့်တင်ဒါစနစ်ဖြင့် ဆောင်ရွက်ရမည်ဖြစ်ရာ မျိုးဇင်ဇာကုမ္ပဏီလီမိတက်အနေဖြင့် တင်ဒါအောင်မြင်ခဲ့သောကြောင့် သစ်တောဦးစီးဌာနနှင့် မြေငှားစာချုပ်ချုပ်ဆိုပြီးဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၅။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Habras-MZZ Plantation Myanmar Company Limited မှ ယူကလစ်၊ အကေးရှား အပင်မျိုးစိတ် စိုက်ခင်းများ တည်ထောင်ခြင်းနှင့် Pulpwood Chips ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိုစွာအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ

နောက်ဆက်တွဲ-က

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁ (၁၀/၂၀၂၀ )
ရက်စွဲ၊ ၂၀၂၀ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Habras-MZZ Plantation Myanmar Company Limited မှ ယူကာလစ်၊ အကေးရှားအပင်မျိုးစိတ်စိုက်ခင်းများတည်ထောင်ခြင်းနှင့် Pulpwood Chips ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁-၂-၂၀၂၀) ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ- ၀၆၅/ ၂၀၂၀(၀၄၃)

၁။ စင်္ကာပူနိုင်ငံရှိ JK Paper International (Singapore) Pte., Ltd. မှ (၅၀%)၊ Mu Mu International Co., Ltd. မှ (၅%) နှင့် မြန်မာနိုင်ငံရှိ Myo Zin Zar International Co., Ltd. မှ (၂၀%)၊ Min New Trading Co., Ltd. မှ (၂၅%) %၊ အသီးသီးထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Habras-MZZ Plantation Myanmar Company Limited တည်ထောင်၍ တင်ဒါလုပ်ကွက်အမှတ်- ၈၃၊ ၈၄၊ ၈၇ ဆင်မကြိုးဝိုင်း၊ ငပုတောမြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၁၂၅၀၁ ဧက (၅၀,၅၈၉,၇၄၆.၉၀ စတုရန်းမီတာ)ငှားရမ်း၍ ယူကာလစ်၊ အကေးရှားအပင်မျိုးစိတ်စိုက်ခင်းများတည်ထောင်ခြင်းနှင့် Pulpwood Chips ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအားစိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင်ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ်၊ (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်/ပြင်ဆင်မှုကာလမှာ (၇) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ (၅၀,၅၈၉,၇၄၆.၉၀ စတုရန်းမီတာ)တွင် ကုန်ကြမ်းဖြစ်သော ယူကာလစ်၊ အကေးရှားပင်များ စိုက်ပျိုးခြင်း၊ လိုအပ်သော စက်ရုံအဆောက်အဦနှင့် ဆက်စပ်အဆောက်အဦများ၊ ကုန်ချောပစ္စည်းများ တင်ပို့ရန်အတွက် ဆိပ်ကမ်းတည်ဆောက်ကာ လုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) သစ်တောဦးစီးဌာနနှင့် HABRAS-MZZ Plantation Myanmar Co., Ltd. တို့အကြားချုပ်ဆိုထားသည့် သစ်တောနယ်မြေအတွင်းရှိမြေ (၁၂၅၀၁) ဧကအား နှစ်ရှည်မြေငှားရမ်းသည့် နှစ်ဘက်သဘောတူစာချုပ် ဖော်ပြပါရှိပါကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် တည်ထောင်ပြီးဖြစ်သည့် သစ်တောစိုက်ခင်းဧက (၃၀၀၀) နှင့် ခေတ်မီမျိုးသန့်ပျိုးဥယျာဉ်တို့အတွက် EIA, EMP ကို SEE-Trust Co., Ltd. ဖြင့် ရေးဆွဲပြီး အတည်ပြုချက်ရယူရန် ဝန်ကြီးဌာနသို့ တင်ပြပြီးဖြစ်ကြောင်း၊

(င) ထုတ်လုပ်မှုအနေဖြင့် ၂၀၂၅ ခုနှစ်တွင် မက်ထရစ်တန်ချိန် (၄) သောင်းကျော်မှ (၁၅) နှစ်အတွင်း မက်ထရစ်တန်ချိန် (၁) သိန်းကျော်အထိ တိုးမြှင့်ကာ ထုတ်လုပ်ရောင်းချသွားမည် ဖြစ်ကြောင်း၊

(စ) ပန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်း ထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဆ) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဇ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Habras-MZZ Plantation Myanmar Company Limited မှ ယူကလစ်၊ အကေးရှားအပင်မျိုးစိတ်စိုက်ခင်းများတည်ထောင်ခြင်းနှင့် Pulpwood Chips ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် လိုအပ်သည့် စက်ရုံအဆောက်အဦများနှင့် ဆိပ်ကမ်းတည်ဆောက်ခြင်း၊ အပင်စိုက်ပျိုးခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် မြေပြုပြင်ခြင်း လုပ်ငန်းများမှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ စွန့်ပစ်မြေဇာပုံနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့်လေထုညစ်ညမ်းခြင်း၊

(ဂ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့် ရေအားစနစ်တကျထုတ်ယူသုံးစွဲမှု မရှိခြင်းကြောင့် မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင်နိမ့်ကျခြင်း၊

(ဃ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(င) ယူကလစ်၊ အကေးရှားအပင်မျိုးစိတ်စိုက်ခင်းများ တည်ထောင်ခြင်းအတွက် မြေပြုပြင်ခြင်း၊ ဆောင်ရွက်ရာ၌ ချုံများကိုခုတ်ထွင်၍ မီးရှို့ရှင်းလင်းခြင်းကြောင့် မြေဆီလွှာအရည်အသွေးကျဆင်းလာစေနိုင်ခြင်း၊ သစ်ပင်သစ်တောများပြုန်းတီးခြင်း၊ တောရိုင်းတိရစ္ဆာန်တို့၏ နေထိုင်ကျက်စားရာနေရာများ ပျက်စီးဆုံးရှုံးခြင်းတို့ကြောင့် ဇီဝမျိုးစုံမျိုးကွဲများ လျော့နည်း

ပျောက်ကွယ်နိုင်ခြင်း၊ ဓာတုဓာတ်မြေဩဇာနှင့် ပိုးသတ်ဆေးများကို အလွန်အကျွံသုံးစွဲပါက မြေဆီလွှာ၏ အရည်အသွေးကို ယိုယွင်းပျက်စီးစေနိုင်ခြင်း၊ တောမီးလောင်ကျွမ်းခြင်း၊ လေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Habras-MZZ Plantation Myanmar Company Limited မှ ယူကလစ်၊ အကေးရှားအပင်မျိုးစိတ်စိုက်ခင်းများတည်ထောင်ခြင်းနှင့် Pulpwood Chips ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များ အားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင် အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (**Environmental Impact Assessment-EIA**) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ်(သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့်ဆောင်ရွက်မည့် လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါ အချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ(EIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

( စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီလိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်၊

( ဇ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

၂၈/၂/၂၀၁၈

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို
- ပြည်ထောင်စုဝန်ကြီးရုံး
- သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
- ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
- ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
- ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ဧရာဝတီတိုင်းဒေသကြီး
- ရုံးလက်ခံ

နောက်ဆက်တွဲ- ခ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ် (သစ်တော)၃(၂)/၁၆(ဃ)/(၁၂၂၈/၂၀၂၀)
ရက်စွဲ ၂၀၂၀ ပြည့်နှစ် ၊ မတ်လ [illegible] ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၄-၂-၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၆၅/၂၀၂၀(၀၄၆-က)

(၂) ဤပြည်ထောင်စုဝန်ကြီးရုံး၏ ၈-၈-၂၀၁၆ ရက်စွဲပါစာအမှတ်၊ (သစ်တော)၃(၂)/၀၇(ဂ)(၁၁၅၂/၂၀၁၆) (မိတ္တူပူးတွဲ)

(၃) ဤပြည်ထောင်စုဝန်ကြီးရုံး၏ ၁၇-၁-၂၀၁၈ ရက်စွဲပါစာအမှတ်၊ (သစ်တော)၃(၂)/၁၆(ဃ)(၂၀၈/၂၀၁၈) (မိတ္တူပူးတွဲ)

၁။ စင်္ကာပူနိုင်ငံရှိ JK Paper International (Singapore) Pte., Ltd မှ (၅၀%)၊ Mu Mu International Trading Pte., Ltd မှ (၅%)နှင့် မြန်မာနိုင်ငံရှိ Myo Zin Zar International Co., Ltd မှ (၂၀%)၊ Min New Trading Co., Ltd မှ (၂၅%) အစုရှယ်ယာများထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Habras-MZZ Plantation Myanmar Company Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တင်ဒါလုပ်ကွက်အမှတ်-၈၃၊ ၈၄၊ ၈၇၊ ဆင်မကြိုးဝိုင်း၊ ငပုတော မြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ(၁၂၅၀၁)ဧကအား ငှားရမ်း၍ ယူကလစ်၊ အကေးရှားအပင်မျိုးစိတ် စိုက်ခင်းများတည်ထောင်ခြင်းနှင့် Pulpwood Chips ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၄၉ အရ အဆိုပြုလွှာအား လက်ခံသည့်နေ့ရက်မှ ရက်ပေါင်း (၆၀) အတွင်း ထုတ်ပေးရမည်ဖြစ်ပြီး အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်း (၁) ပါစာဖြင့် ညှိနှိုင်းထားရှိပါသည်။

၂။ မျိုးဇင်ဇာအပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်မှ ငပုတောမြို့နယ်၊ ဆင်မကြိုးဝိုင်းအတွင်းရှိ တင်ဒါလုပ်ကွက်အမှတ်(၈၃၊ ၈၄၊ ၈၇)၊ စုစုပေါင်းဧရိယာ ၁၂၅၀၁ ဧကအား Habras-MZZ Plantation Myanmar Co.,Ltd အမည်ဖြင့် Joint-venture Co.,Ltd တည်ထောင်ရန် သဘောတူကြောင်းကို ရည်ညွှန်း (၂) ပါစာဖြင့် ဖြင့်လည်းကောင်း၊ မျိုးဇင်ဇာ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်နှင့် အိန္ဒိယနိုင်ငံ (JK Paper) ကုမ္ပဏီမှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်

မြန်မာနိုင်ငံတွင် Habras-MZZ Plantation Myanmar Co.,Ltd အမည်ဖြင့် Joint Venture Company တည်ထောင်၍ ပုဂ္ဂလိကသစ်တောစိုက်ခင်း စိုက်ပျိုးတည်ထောင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရန်အတွက် အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်ကိစ္စနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်းကို ရည်ညွှန်း(၃)ပါစာဖြင့် လည်းကောင်း မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်ကြားထားပြီးဖြစ်ပါသည်။

၃။ အဆိုပါကိစ္စနှင့်ပတ်သက်၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနအနေဖြင့် စိစစ်ရာ မျိုးဇင်ဇာအပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်မှ သစ်တောဦးစီးဌာနနှင့် ၂၅-၃-၂၀၁၆ ရက်နေ့တွင် စာချုပ်ချုပ်ဆိုထားပြီး ၂၀၁၅ ခုနှစ် အိတ်ဖွင့်တင်ဒါဆောင်ရွက်ရာ၌ သစ်တောစိုက်ခင်းတည်ထောင်ခြင်းသည် ရေရှည်ရင်းနှီးမြှုပ်နှံရသော လုပ်ငန်းတစ်ခုဖြစ်ပြီး အများအားဖြင့် စိုက်ခင်းမှ နောက်ဆုံးတောထွက် ထုတ်လုပ်မည့်နှစ်အထိ သက်ပတ်ကာလ (Rotation)ကို အနည်းဆုံး နှစ် (၃၀) သတ်မှတ်ကြပါသဖြင့် မြေငှားရမ်းသည့်ကာလအား ၃၀ နှစ် သတ်မှတ်ထားပြီး ကုမ္ပဏီ၏တင်ဒါအဆိုပြုချက်အရ မြေငှားရမ်းခအား (၁) ကေလျှင်ကျပ် (၃၀,၀၀၀) ပေးသွင်းလျက်ရှိပါသည်။

၄။ သို့ဖြစ်ပါ၍ သစ်တောဦးစီးဌာန၏ ပထမအကြိမ် အိတ်ဖွင့်တင်ဒါအောင်မြင်ခဲ့သည့် မျိုးဇင်ဇာအပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်နှင့် အိန္ဒိယနိုင်ငံ (JK Paper)ကုမ္ပဏီမှ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Habras-MZZ Plantation Myanmar Co.,Ltd အမည်ဖြင့် Joint Venture Company တည်ထောင်ခဲ့ပြီး ယူကလစ်၊ အကေးရှား အပင်မျိုးစိတ် စိုက်ခင်းများတည် ထောင်ခြင်းနှင့် Pulpwood Chips ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား အဆိုပြုလျှောက်ထားခြင်းနှင့်ပတ်သက်၍ ကုမ္ပဏီမှ ဆက်လက်ဆောင်ရွက်ရမည့် ပုဂ္ဂလိက သစ်တောစိုက်ခင်းဆိုင်ရာကိစ္စရပ်များတွင် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ လုပ်ထုံးလုပ်နည်း၊ စည်းကမ်းချက်များနှင့်အညီ ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်းနှင့် ပုဂ္ဂလိကသစ်တောစိုက်ခင်း စိုက်ပျိုးတည်ထောင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအတွက် ကုမ္ပဏီမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက် လျှောက်ထားခြင်းအပေါ် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊
သစ်တောဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် (သစ်တော) ၃(၂)/၀၇(ဂ)(၂၃၅၂ /၂၀၁၆)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ပြည်တွင်းပြည်ပရင်းနှီးမြှုပ်နှံမှုဖြင့် ပုဂ္ဂလိက သစ်တောတည်ထောင်ခြင်း လုပ်ငန်းဆောင်ရွက်ရန်အတွက် **HABRAS- MZZ Plantation Myanmar Co.,Ltd** မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် **(MIC)** သို့ **Joint - Venture Company** တည်ထောင်ရန်တင်ပြခြင်း

ရည်ညွှန်းချက်။ မျိုးဇင်ဇာအပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်၏ ၂၁- ၇- ၂၀၁၆ ရက်စွဲပါ တင်ပြစာအရ

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ မျိုးဇင်ဇာအပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်မှ ပေါ့တော်မြို့နယ်၊ ဆင်မကြိုးဝိုင်း၊ အကွက် (၆၂- ၆၅၊ ၆၇- ၆၉ ၊ ၇၀- ၇၅ ၊ ၇၇- ၇၉၊ ၈၂- ၈၄၊ ၈၈)ရှိ တင်ဒါလုပ်ကွက်အမှတ် (၈၃၊ ၈၄၊ ၈၇)စုစုပေါင်း (၃)ကွက် ဧရိယာ (၁၂၅၀၁) ဧကအား HABRAS- MZZ Plantation Myanmar Co.,Ltd မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် (MIC) သို့ Joint – Venture Company Co.,Ltd; ကို တည်ထောင်ခွင့်ပြုကြောင်း သဘောတူညီခွင့်ပြုပေးပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ မျိုးဇင်ဇာအပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်သည် ပြည်တွင်း / ပြည်ပရင်းနှီးမြှုပ်နှံမှုဖြင့် သစ်တောမြေနှစ်ရှည်ငှားရမ်းခြင်း ပထမအကြိမ် အိတ်ဖွင့်တင်ဒါတွင် ပေါ့တောမြို့နယ်၊ ဆင်မကြိုးဝိုင်းအတွင်း ပုဂ္ဂလိကစိုက်ခင်း(၁၂၅၀၁)ဧက စိုက်ပျိုးရန် တင်ဒါအောင်မြင်ခဲ့သည့် ကုမ္ပဏီဖြစ်သဖြင့်လည်းကောင်း၊ အစိုးရအဖွဲ့မှ မူအရခွင့်ပြုပြီးဖြစ်သဖြင့်လည်းကောင်း၊ မျိုးဇင်ဇာအပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်နှင့် HABRAS- MZZ Plantation Myanmar Co.,Ltd မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် (MIC) သို့ Joint - Venture Company Co.,Ltd; ကို တည်ထောင်ခွင့်ပြုကြောင်း သဘောတူညီခွင့်ပြုပေးပါရန် ကိစ္စနှင့် ပတ်သက်၍

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန် မရှိကြောင်း ၊ Open Tender အောင်မြင်ကြောင်း အမိန့်ကြော်ငြာစာနှင့် လုပ်ငန်းဆောင်ရွက်ခွင့် စာချုပ်မိတ္တူများ ပူးတွဲလျက် ထောက်ခံပေးပို့အပ်ပါသည်။

၈/၈/၂၀၁၈

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ဝင်းဇော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်(သစ်တော) ၃(၂)/၁၆(ဃ)( ၂၀၈ /၂၀၁၈)
ရက်စွဲ ၂၀၁၈ ခုနှစ် ၊ ဇန်နဝါရီလ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **HABRAS-MZZ PLANTATION MYANMAR CO., LTD ၏ ခွင့်ပြုမိန့်လျှောက်ထားခြင်းအား လက်ခံဆောင်ရွက်ပေးပါရန် တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၁၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ထွေ/၂၀၁၇(၉၂၉)

ရောဝတီတိုင်းဒေသကြီး၊ ငပုတောမြို့နယ်၊ ဆင်မကြိုးဝိုင်းရှိ တင်ဒါလုပ်ကွက်အမှတ်(၈၃၊၈၄၊၈၇)၊ ဧရိယာ(၁၂၅၈၀) ဧကအား သစ်တောဦးစီးဌာန၏ ပထမအကြိမ် အိတ်ဖွင့်တင်ဒါအောင်မြင်ခဲ့သည့် မျိုးဇင်ဇာအပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်နှင့် အိန္ဒိယနိုင်ငံ(JK Paper) ကုမ္ပဏီမှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် HABRAS-MZZ PLANTA-TION MYANMAR CO., LTD အမည်ဖြင့် Joint Venture Company တည်ထောင်၍ ပုဂ္ဂလိကသစ်တောစိုက်ခင်း စိုက်ပျိုးတည်ထောင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအတွက် အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်ကိစ္စနှင့်ပတ်သက်၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနအနေဖြင့် ကုမ္ပဏီမှ ဆက်လက်ဆောင်ရွက်ရမည့် ပုဂ္ဂလိကသစ်တောစိုက်ခင်းဆိုင်ရာကိစ္စရပ်များတွင် ဝန်ကြီးဌာန၏ လုပ်ထုံးလုပ်နည်း၊ စည်းကမ်းချက်များနှင့်အညီ ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်းနှင့် ပုဂ္ဂလိကသစ်တောစိုက်ခင်း စိုက်ပျိုးတည်ထောင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအတွက် ကုမ္ပဏီမှ ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက်လျှောက်ထားခြင်းအပေါ် ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၁၇/၁/၂၀၁၈

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ဝင်းနော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

D:\MMY\(UHHW)2018\UHHW\1\FD\17. HABRAS ...